အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Miyoshi Myanmar Horticulture Co., Ltd. မှ ပန်းမျိုးစေ့များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ကမကထပြုသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - Miyoshi Myanmar Horticulture Co.,Ltd.<br>- Mr. Seiichi Miyoshi<br>- ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Miyoshi Group & Co,.Ltd. (ဂျပန်) ၈၀%<br>- Shan Maw Myae Company Limited (မြန်မာ) ၂၀% |
| | လုပ်ငန်းအမျိုးအစား | - ပန်းမျိုးစေ့ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်-၁၊ ကွင်းအမှတ်-ပြင်၊ ကျွဲနွားထောက် ကျေးရွာအုပ်စု၊ ပြင်ဦးလွင်မြို့နယ်၊ ပြင်ဦးလွင်ခရိုင်၊ မန္တလေးတိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>နှစ်စဉ်မြေငှားရမ်းခ<br><br>မြေငှားရမ်းကာလ | - ဦးညဏ်လင်း<br>- မြေ ( ၅ ) ဧက (၂၀၂၃၄.၃ စတုရန်းမီတာ)<br>- တစ်နှစ် ငှားရမ်းခ အမေရိကန်ဒေါ်လာ ၂၀၂၃ (တစ်နှစ်တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၀.၁)<br>- ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် |
| ၅။ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၆။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - US$ ၀.၉၉၇ သန်း |

| | ပြည်တွင်း US$(သန်း) | ပြည်ပ US$(သန်း) | စုစုပေါင်း US$(သန်း) |
|---|---|---|---|
| ငွေသား | ၀.၀၉၈ | ၀.၇၉၈ | ၀.၈၉၆ |
| မြေငှားရမ်းခ | ၀.၁၀၁ | - | ၀.၁၀၁ |
| **စုစုပေါင်း** | **၀.၁၉၉** | **၀.၇၉၈** | **၀.၉၉၇** |

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းအင်အား | - **၁၄ ဦး** |
| | ပြည်တွင်း | - ၁၃ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၁,၅၀၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ ကျပ် ၃၃၇,၅၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၁ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏လစာမှာ US$ ၈၈၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်ပ ၉၀ %၊ ပြည်တွင်း ၁၀ % |
| | ထုတ်လုပ်မှု (ပုံမှန်နှစ်) | |

| **စဉ်** | **ပစ္စည်းအမျိုး အစား** | **အရေအတွက် (Kg)** | | **ရောင်းချမည့်ဈေးနှုန်း** | |
|---|---|---|---|---|---|
| | | ပြည်တွင်း (၁၀%) | ပြည်ပ (၉၀%) | ပြည်တွင်း (ကျပ်/Kg) | ပြည်ပ (US$/Kg) |
| က | Delphinium | ၀.၄၈ | ၄.၃၂ | ၂၄၀,၃၀၀ | ၃,၄၇၈ |
| ခ | Eustoma | ၀.၂၄ | ၂.၁၆ | ၂၄၀,၃၀၀ | ၃,၄၇၈ |
| ဂ | CallistephusShinensis | ၂.၅၀ | ၂၂.၅၀ | ၂၀,၅၀၀ | ၁၇၃ |
| ဃ | Limonium Sinuatum | ၀.၁၈ | ၁.၆၂ | ၄၀၄,၃၀၀ | ၆,၅၆၅ |
| င | Helianthus Annus | ၁၇.၅၀ | ၁၅၇.၅၀ | ၄,၅၀၀ | ၁၇ |
| စ | Vegetables | ၁၅.၀၀ | ၁၃၅.၀၀ | ၂၀,၅၀၀ | ၁၇၃ |

| | | |
|---|---|---|
| ၉။ | အခြားတင်ပြချက် | - မြေအထောက်အထားအဖြစ် ဦးဉာဏ်လင်း အမည်ဖြင့် မြေစာရင်း ပုံစံ-၁၀၅ နှင့် လယ်မြေမှတစ်ပါး လယ်ယာမြေအား အခြားနည်းအသုံးပြုရန် ခွင့်ပြုမိန့်အထောက်အထားအား တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးဉာဏ်လင်းနှင့် Miyoshi Myanmar Horticulture Company Limitedတို့ ချုပ်ဆိုမည့် မြေငှားရမ်းစာချုပ်(မူကြမ်း)၊ ဂျပန်နိုင်ငံမှ Miyoshi Group & Co.,Ltd.နှင့် မြန်မာနိုင်ငံမှ ရှမ်းမောမြေ ကုမ္ပဏီ လီမိတက်တို့အကြား ချုပ်ဆိုမည့် Joint Venture Agreement တို့ကိုလည်း တင်ပြထား ပါသည်။<br>- ငွေကြေးအထောက်အထားအဖြစ် Mizuho Bank Ltd. တွင် Miyoshi Group & Co.,Ltd. အမည်ဖြင့် (၇-၂-၂၀၁၉) ရက်နေ့တွင် ဂျပန်ယန်း ၆၁,၄၄၉,၂၉၀ ရှိကြောင်း နှင့် ကမ္ဘောဇဘဏ်တွင် ဦးဉာဏ်လင်း အမည်ဖြင့်(၂-၁၁-၂၀၁၈) ရက်နေ့တွင် ကျပ် ၃,၅၉၈,၈၄၀.၀၉ ရှိကြောင်း တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏မှတ်ပုံတင်မိတ္တူနှင့်နိုင်ငံကူးလက်မှတ်မိတ္တူများ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၀။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ISIC Code. 0164 တွင် အကျုံးဝင်ပါသည်။<br>- မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာအမှတ်(၁၅/၂၀၁၇)၊ အပိုဒ်(ဃ)၊ အပိုဒ်ခွဲ(၃)အရ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၏ အတည် ပြုချက် ရယူရခြင်း ဖြစ်ပါသည်။<br>- လုပ်ငန်းအတွက်လိုအပ်သောလုပ်ငန်းသုံးပစ္စည်းများနှင့် စက်ပစ္စည်းများကို ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ပါသည်။<br>- ပန်းမျိုးစေ့ထုတ်လုပ်ရာတွင် အသုံးပြုမည့်မြေနှင့် အဆောက်အဦး ဆောက်လုပ်ရန်မြေ (၅)ကေအား လယ်ယာမြေကို အခြားနည်းအသုံးပြုခွင့် ရရှိပြီးဖြစ်ပါသည်။<br>- စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ မျိုးစေ့လုပ်ငန်းလိုင်စင်ရရှိပြီးဖြစ်ပါသည်။ |

**ကန့်သတ်**

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ အ-၀၂၅/ ၂၀၁၉( ၀၇၀ )

ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဖေဖော်ဝါရီလ ၂၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Miyoshi Myanmar Horticulture Company Limited မှ ပန်းမျိုးစေ့ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စ**

၁။ ဂျပန်နိုင်ငံ Miyoshi Group & Co.,Ltd. မှ ၈၀ % နှင့် မြန်မာနိုင်ငံမှ Shan Maw Myae Company Limited မှ ၂၀% အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Miyoshi Myanmar Horticulture Company Limited တည်ထောင်ပြီး ဦးပိုင်အမှတ်-၁၊ ကွင်းအမှတ်- ပြင်၊ ကျွဲနွားထောက်ကျေးရွာအုပ်စု၊ ပြင်ဦးလွင်မြို့နယ်၊ မန္တလေးတိုင်းဒေသကြီးအတွင်းရှိ စုစုပေါင်းမြေဧရိယာ ၅ ဧကကို ငှားရမ်း ၍ ပန်းမျိုးစေ့ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အတည်ပြုလျှောက်ထားလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင်ဦးဉာဏ်လင်းနှင့် Miyoshi Myanmar Horticulture Company Limited တို့ ချုပ်ဆိုမည့် မြေငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)၊ ဖက်စပ်စာချုပ်(မူကြမ်း)၊ မြေဆိုင်ရာအထောက်အထားများ၊ မှတ်ပုံတင်မိတ္တူနှင့် နိုင်ငံကူးလက်မှတ်မိတ္တူတို့အား တင်ပြထားပါသည်။

၃။ မြေငှားရမ်းသက်တမ်းမှာကနဦး ၅၀ နှစ်ငှားရမ်းမည်ဖြစ်ပြီး သက်တမ်းတိုး ၁၀ နှစ်ငှားရမ်းမည်ဖြစ်ပါသည်။ မြေဧရိယာ ၅ ဧက(၂၀,၂၃၄.၃ တစ်စတုရန်းမီတာ)အား ငှားရမ်း၍ လုပ်ငန်းဆောင်ရွက်မည်ဖြစ်ပါသည်။ နှစ်စဉ်မြေငှားရမ်းခမှာ အမေရိကန်ဒေါ်လာ ၂၀၂၃၄.၂၈ ဖြစ်ပြီး တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၀.၁ နှုန်း ဖြစ်ပါ သည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ်နှင့် သက်တမ်းတိုး ၁၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၀.၉၉၇သန်း ဖြစ်ပါသည်။ လုပ်ငန်းအတွက်လိုအပ်သော လုပ်ငန်းသုံးပစ္စည်းများနှင့် စက်ပစ္စည်းများကို ပြည်တွင်းမှ ဝယ်ယူမည်ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

US$(သန်း)

| | ပြည်တွင်း | ပြည်ပ | စုစုပေါင်း |
|---|---|---|---|
| ငွေသား | ၀.၀၉၈ | ၀.၇၉၈ | ၀.၈၉၆ |
| မြေငှားရမ်းခ | ၀.၁၀၁ | - | ၀.၁၀၁ |
| **စုစုပေါင်း** | **၀.၁၉၉** | **၀.၇၉၈** | **၀.၉၉၇** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၁၃ ဦးနှင့် ပြည်ပဝန်ထမ်း ၁ ဦး စုစုပေါင်း ဝန်ထမ်းဦးရေ ၁၄ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၂၁,၅၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၃၃၇,၅၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း တစ်ဦး၏ လစာမှာ အမေရိကန်ဒေါ်လာ ၈၈၀ ဖြစ်ပါသည်။

၇။ အတည်ပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ပန်းမျိုးစေ့များအား ပြည်ပသို့ ၉၀%နှင့် ပြည်တွင်း ၁၀% ထုတ်လုပ်ရောင်းချမည်ဖြစ်ပါသည်။ ထုတ်လုပ်မှုအရေအတွက်နှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်:-

| စဉ် | အမျိုးအစား | အရေအတွက်(Kg) | | ရောင်းချမည့်ဈေးနှုန်း | |
|---|---|---|---|---|---|
| | | ပြည်ပ(၉၀%) | ပြည်တွင်း(၁၀%) | ပြည်ပ (US$/Kg) | ပြည်တွင်း (ကျပ်/Kg) |
| က | Delphinium | ၄.၃၂ | ၀.၄၈ | ၃,၄၇၈ | ၂၄၀,၃၀၀ |
| ခ | Eustoma | ၂.၁၆ | ၀.၂၄ | ၃,၄၇၈ | ၂၄၀,၃၀၀ |
| ဂ | Callistephus Shinensis | ၂၂.၅၀ | ၂.၅၀ | ၁၇၃ | ၂၀,၅၀၀ |
| ဃ | Limonium Sinuatum | ၁.၆၂ | ၀.၁၈ | ၆,၅၆၅ | ၄၀၄,၃၀၀ |
| င | Helianthus Annus | ၁၅၇.၅၀ | ၁၇.၅၀ | ၁၇ | ၄,၅၀၀ |
| စ | Vegetables | ၁၃၅.၀၀ | ၁၅.၀၀ | ၁၇၃ | ၂၀,၅၀၀ |

၈။ အတည်ပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ** စီမံကိန်းလုပ်ငန်းနှင့် ပတ်သက်၍ အဆောက်အဦဆောက်လုပ် အသုံးပြုမည်ဆိုပါက ၂၀၁၂ခုနှစ် လယ်ယာမြေဥပဒေ နှင့်အညီ ပုဒ်မ ၃၀(ခ)အရ လယ်ယာမြေကို အခြားနည်းသုံးစွဲခွင့်ရရှိပြီးမှသာ လုပ်ငန်း ဆောင်ရွက်သင့်သဖြင့် သဘောတူထောက်ခံခြင်း မပြုနိုင်ကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။ (**ယခုအခါ ကုမ္ပဏီမှ လယ်ယာမြေအား အခြားနည်း အသုံးပြုရန် ခွင့်ပြုမိန့်ရရှိထားပြီး ဖြစ်ပါသည်။**) **နောက်ဆက်တွဲ-က**

(ခ) **စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ** ပန်းမျိုးစေ့ထုတ်မည့် စိုက်ပျိုးပင်သည် နှစ်ရှည်ပင်(သို့မဟုတ်) ဥယျာဉ်ခြံပင်ဖြစ်ပါက လက်ရှိမြေမျိုးဖြစ်သည့် ယာမြေမှ ဥယျာဉ်မြေအဖြစ် ၂၀၁၂ခုနှစ် လယ်ယာမြေဥပဒေ၊ နည်းဥပဒေနှင့်

အညီ သီးနှံပြောင်းလဲခွင့် လျှောက်ထားသွား ရန်လိုအပ်ပြီး လယ်ယာမြေငှားရမ်းခြင်းကိစ္စဖြစ်ပါသဖြင့် ငှားရမ်းစာချုပ်ချုပ်ဆို၍ မှတ်ပုံတင် ဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါကြောင်းသဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန ၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန** မှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE) ဆောင်ရွက်ရန်နှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကိုဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Miyoshi Group & Co,.Ltd.အမည်ဖြင့် ဂျပန်နိုင်ငံ Mizuho Bank, Limited တွင် ၇-၂-၂၀၁၉ ရက်စွဲဖြင့် ဂျပန်ယန်း ၆၁,၄၄၉,၂၉၀ ရှိကြောင်းနှင့် ဦးဥာဏ်လင်း အမည်ဖြင့် ကမ္ဘောဇဘဏ်တွင် ၂-၁၁-၂၀၁၈ ရက်စွဲဖြင့် ကျပ် ၃,၅၉၈,၈၄၀,၀၉ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၁၀။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် အတည်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) မျိုးစေ့များကို ဂျပန်နိုင်ငံသို့ ၉၀% တင်ပို့ရောင်းချမည် ဖြစ်ပါသည်။

(ဂ) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ မျိုးစေ့လုပ်ငန်းလိုင်စင်ရရှိပြီးဖြစ်ပါသည်။

(ဃ) ကုမ္ပဏီမှ ပန်းမျိုးစေ့ထုတ်လုပ်ရန်နှင့် ဂိုဒေါင်မြေနေရာအဖြစ် အသုံးပြုရန် အတွက် လယ်ယာမြေအား အခြားနည်းအသုံးပြုရန် ခွင့်ပြုမိန့် ရရှိပြီးဖြစ်၍ ပြန်လည်တင်ပြလာခြင်းဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၁။ Miyoshi Myanmar Horticulture Company Limited မှ ပန်းမျိုးစေ့များ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာ တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က

FROM : FAX NO. :02 19 Jan. 2018 6:26PM P1

MIC/ 39 22 19/1/18

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မန္တလေးတိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

မန္တလေးမြို့

စာအမှတ် ၊ ၂ / ၃ - ၃ / ၇ ဦး ၆ ( ၁၅၉ )

ရက် စွဲ ၊ ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီလ ၁၉ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ရန်ကုန်မြို့

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမည့်လုပ်ငန်းနှင့်ပတ်သက်၍ သဘောထားပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊ ရန်ကုန်မြို့၏ ၁၀-၁-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/ အ-၀၂၅/ ၂၀၁၈(၀၂၁)

၁။ မန္တလေးတိုင်းဒေသကြီး၊ ပြင်ဦးလွင်မြို့နယ်၊ ကျွဲနွားထောက်ကျေးရွာ၊ ကွင်းအမှတ်-ပြင်၊ ဦးပိုင်အမှတ်(၁)ရှိ မြေဧရိယာ ၅.၀၀ ဧကကို ငှားရမ်းပြီး ပန်းမျိုးစေ့ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးခြင်း လုပ်ငန်း ဆောင်ရွက်မည့်ကိစ္စနှင့်ပတ်သက်၍ ၁၉-၁-၂၀၁၈ ရက်အရောက် သဘောထားပြန်ကြားပေးရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားထားပါသည်။

၂။ အဆိုပါသဘောထားတောင်းခံထားသည့်စာမှာ ဤရုံးသို့ ၁၆-၁-၂၀၁၈ ရက်တွင်လက်ခံရရှိပြီး ၁၉-၁-၂၀၁၈ ရက်အရောက်တောင်းခံခြင်းမှာ နယ်မြေဒေသအခြေအနေအရ ကွင်းဆင်းစစ်ဆေးသည့် လုပ်ငန်းများဖြစ်၍ ၎င်းရက်အတွင်း ပြန်ကြားရန်မှာ အခက်အခဲရှိပါကြောင်းနှင့် စီမံကိန်းလုပ်ငန်းနှင့် ပတ်သက်၍ အဆောက်အဦဆောက်လုပ်အသုံးပြုမည်ဖြစ်ပါက ၂၀၁၂ခုနှစ် လယ်ယာမြေဥပဒေနှင့်အညီ ပုဒ်မ ၃၀(ခ)အရ လယ်ယာမြေကိုအခြားနည်းသုံးစွဲခွင့်ရရှိပြီးမှသာ လုပ်ငန်းများဆောင်ရွက်သင့်သဖြင့် သဘောတူထောက်ခံခြင်းမပြုနိုင်ကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

19.1.2018

ဝန်ကြီးချုပ် ( ကိုယ်စား )

( ဒေါက်တာစိုးသန်း၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီး )

မိတ္တူကို

လုည့်လည်စာတွဲ

လက်ခံစာတွဲ

E/thukha/12-2017/112

နောက်ဆက်တွဲ- ခ

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန**
**ဝန်ကြီးရုံး**

စာအမှတ်၊ စမက(၃) ၇၀၀၀၁ ( ၀၂၀ /၂၀၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဇန်နဝါရီလ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀-၁-၂၀၁၈ ရက်စွဲပါ၊ စာအမှတ်၊ မရက- ၂/ အ-၀၂၅/ ၂၀၁၈ (၀၂၂)

Miyoshi Myanmar Horticulture Co., Ltd. မှ မန္တလေးတိုင်းဒေသကြီး၊ ပြင်ဦးလွင်မြို့နယ်၊ ကျွဲနွားထောက်ကျေးရွာ၊ အကွက်အမှတ်-ပြင်၊ ဦးပိုင်အမှတ်-၁ အတွင်းရှိ စုစုပေါင်းမြေဧရိယာ (၅) ဧကကို ငှားရမ်း၍ ပန်းမျိုးစေ့ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်းများလုပ်ကိုင်ဆောင်ရွက်လိုခြင်းအပေါ် သဘောထားတောင်းခံလာခြင်းနှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

(၁) အဆိုပါမြေသည် ခရိုင်လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ ၃၁-၁၂-၂၀၁၅ ရက်စွဲပါ ခွင့်ပြုစာအမှတ်၊ ၂၉၄/လယ-၁ ဖြင့် အတည်ပြုခွင့်ပြုချက်အရ ဦးဉာဏ်လင်းအမည်ဖြင့် လယ်ယာမြေလုပ်ပိုင်ခွင့်ပြုလက်မှတ် ပုံစံ (၇) ထုတ်ပေးခဲ့ကြောင်း စိစစ်တွေ့ရှိရပြီး လက်ရှိမြေပြင်တွင် ဦးဉာဏ်လင်းမှ သီးနှံစိုက်ပျိုးရန်အတွက် မြေပြင်ထားသည်ကို စိစစ်တွေ့ရှိရပါသည်။

(၂) ပန်းမျိုးစေ့ထုတ်မည့် စိုက်ပျိုးပင်သည် နှစ်ရှည်ပင် (သို့မဟုတ်) ဥယျာဉ်ခြံပင်ဖြစ်ပါက လက်ရှိမြေမျိုးဖြစ်သည့် ယာမြေမှ ဥယျာဉ်မြေအဖြစ် ၂၀၁၂ ခုနှစ် လယ်ယာမြေဥပဒေ၊ နည်းဥပဒေနှင့်အညီ သီးနှံပြောင်းလဲခွင့် လျှောက်ထားသွားရန်လိုအပ်ပြီး လယ်ယာမြေ ငှားရမ်းခြင်းကိစ္စဖြစ်ပါသဖြင့် ငှားရမ်းစာချုပ်ချုပ်ဆို၍ မှတ်ပုံတင်ဆောင်ရွက်သွားရန် လိုအပ်မည်ဖြစ်ပါသည်။

19.1.18

ဒုတိယဝန်ကြီး(ကိုယ်စား)

(မျိုးတင့်ထွန်း၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

ညွှန်ကြားရေးမှူးချုပ်၊ စီမံကိန်းဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စိုက်ပျိုးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လယ်ယာမြေစီမံခန့်ခွဲရေးနှင့် စာရင်းအင်းဦးစီးဌာန

ရုံးလက်ခံ

မျှောစာတွဲ

နောက်ဆက်တွဲ- ဂ

MIC- ၇၅/၆/၂

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၈၊၂၀၁၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ် ဇန်နဝါရီလ ၁၆ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Miyoshi Myanmar Horticulture Company Limited မှ ပန်းမျိုးစေ့ထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူးခြင်းလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၀-၁-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/ အ-၀၂၅/ ၂၀၁၈(၀၂၀)

၁။ ဂျပန်နိုင်ငံ Miyoshi Group Company Limited မှ ၈၀% နှင့် မြန်မာနိုင်ငံမှ Shan Maw Myae Company Limited မှ ၂၀% အစုရှယ်ယာများ တည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Miyoshi Myanmar Horticulture Company Limited တည်ထောင်ပြီး မန္တလေးတိုင်းဒေသကြီး၊ ပြင်ဦးလွင်မြို့နယ်၊ ကျဲနွားထောက်ကျေးရွာ၊ အကွက်အမှတ်- ပြင်၊ ဦးပိုင်အမှတ်- ၁ အတွင်းရှိ စုစုပေါင်းမြေဧရိယာ ၅ ဧက (၂၀,၂၃၄.၂၈ စတုရန်းမီတာ) ကို ငှားရမ်း၍ ပန်းမျိုးစေ့ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ လုပ်ကိုင်ဆောင်ရွက်လိုကြောင်း တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာနှစ် (၂၀) ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၂) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား မန္တလေးတိုင်းဒေသကြီး၊ ပြင်ဦးလွင်မြို့နယ်ရှိ မြေ (၂၀,၂၃၄.၂၈ စတုရန်းမီတာ)တွင် သစ်သီးဝလံနှင့်ပန်းပင်များစိုက်ပျိုးမည့် Green House များတည်ဆောက်ပြီးမျိုးစေ့ထုတ်လုပ်ခြင်းနှင့် tissue culture နည်းဖြင့် စိုက်ပျိုးထားသည့် အပင်များရောင်းချသည့်လုပ်ငန်း ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် ပြည်တွင်းကီလို (၂၀) ကျော်၊ ပြည်ပကီလို (၁၈၀) ကျော်မှ (၁၀) နှစ်အတွင်း ပြည်တွင်းကီလို (၂၂၇) ကျော်၊ ပြည်ပကီလို (၂) ထောင်ကျော်ထိ ထုတ်လုပ် ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၁%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသောဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။

၃။ ရင်းနှီးမြှုပ်နှံရန် အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) Miyoshi Myanmar Horticulture Company Limited မှ ပန်းမျိုးစေ့ထုတ်လုပ်ခြင်းနှင့်ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေပြုပြင်ခြင်းဆောင်ရွက်ရာ၌ ချုံများကို ခုတ်ထွင်၍ မီးရှို့ရှင်းလင်းခြင်းကြောင့် မြေဆီလွှာအရည်အသွေးကျဆင်းလာစေနိုင်ခြင်း၊ သစ်ပင်သစ်တောများ ပြုန်းတီးခြင်း၊ တောရိုင်း တိရစ္ဆာန်တို့၏ နေထိုင်ကျက်စားရာနေရာများ ပျက်စီးဆုံးရှုံးခြင်းတို့ကြောင့် ဇီဝမျိုးစုံမျိုးကွဲများ လျော့နည်း ပျောက်ကွယ်နိုင်ခြင်းစသည့် ပတ်ဝန်းကျင်ထိခိုက်မှု ဖြစ်စေနိုင်ခြင်း၊

(ခ) ဓာတုဓာတ်မြေသြဇာနှင့် ပိုးသတ်ဆေးများကို အလွန်အကျွံသုံးစွဲပါက မြေဆီလွှာ၏အရည်အသွေးကို ယိုယွင်းပျက်စီးစေနိုင်ခြင်း၊ တောမီးလောင် ကျွမ်းခြင်း၊ လေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ဂ) ပိုးသတ်ဆေးများသည် ရည်ရွယ်သည့်ပေါင်းပင်နှင့် ပိုးမွှားများသာမက လူအပါအဝင် အခြားအပင်နှင့်တိရစ္ဆာန်များထိခိုက်စေနိုင်ခြင်း၊ မြေကြီးအတွင်းသို့စိမ့်ဝင်ရာမှ မြေအောက်ရေထုနှင့် မြေထုအား ညစ်ညမ်းစေနိုင်ပြီး ရေနေသတ္တဝါများထိခိုက်စေနိုင်ခြင်း၊

(ဃ) အချို့သောပိုးသတ်ဆေးနှင့် ဓာတ်မြေသြဇာများသည် ပတ်ဝန်းကျင်၌ ကြာရှည်စွာတည်ရှိနိုင်ပြီး ရေ၌ပျော်ဝင်နိုင်မှုနည်းပါးသဖြင့် သက်ရှိများ၏အဆီများတွင် ကြာရှည်တည်ရှိနိုင်ခြင်း၊ ပါဝင်သည့် chemical composition ပေါ်မူတည်၍ အစာကွင်းဆက်အတွင်းသို့ရောက်ရှိကာ သဘာဝပတ်ဝန်းကျင်ရှိ တောရိုင်းတိရစ္ဆာန်များအား ထိခိုက်စေနိုင်သည့်အပြင် ပတ်ဝန်းကျင်ရှိပြည်သူများ၏ ကျန်းမာရေးကိုထိခိုက်စေနိုင်ခြင်း၊ ပိုးသတ်ဆေးကို စနစ်တကျကိုင် တွယ်အသုံးပြုခြင်းမရှိပါက အလုပ်သမား၏ ကျန်းမာရေးအားထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်စေနိုင်ပါ သည်။

၄။ သို့ဖြစ်ပါ၍ Miyoshi Myanmar Horticulture Company Limited မှ ပန်းမျိုးစေ့ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်းလုပ်ကိုင်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကိုအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်အမြတ်ငွေ၏ (၁%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination - IEE)** ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ်စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan - EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်းအကောင်အထည် ဖော်ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ဖြည့်စွက် ၍တစ်ပါတည်းတင်ပြရန်၊

(ဂ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မန္တလေးတိုင်းဒေသကြီး
ရုံးလက်ခံ